## ရခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Hotel Yamaman Co., Ltd မှ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းဆောင် ဆောင်ရွက်ခြင်းအတွက် ကော်မရှင် အစည်းအဝေးသို့ တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | အဆိုပြုချက်လက်ခံရရှိခြင်း | ၂၁-၉-၂၀၁၅ | | ၁၂၈ ရက် |
| ၂။ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး | ၉-၁၁-၂၀၁၅ | ၂၂-၁၂-၂၀၁၅ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာဝန်ကြီးဌာန | ၉-၁၁-၂၀၁၅ | ၂၇-၁၁-၂၀၁၅ | |
| | (ဂ) ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန | ၁၆-၁၀-၂၀၁၅ | ၃-၁၁-၂၀၁၅ | |
| | (ဃ) ရထားပို့ဆောင်ရေးဝန်ကြီးဌာန | ၉-၁၁-၂၀၁၅ | ၄-၂-၂၀၁၆ | |
| | (င) မြန်မာနိုင်ငံတော်ဗဟိုဘဏ် | ၉-၁၁-၂၀၁၅ | ၁၈-၁၂-၂၀၁၅ | |
| | (စ) ရန်ကုန်မြို့တော်စည်ပင်သာယာရေး ကော်မတီ | ၉-၁၁-၂၀၁၅ | ၂၃-၁၁-၂၀၁၅ | |
| ၃။ | PAT အစည်းအဝေး (၃၅/၂၀၁၅) (၂၉-၉-၂၀၁၅)သို့ တင်ပြခြင်း | ၂၉-၉-၂၀၁၅ | | |
| ၄။ | **မြေပြင်ကွင်းဆင်းစစ်ဆေးခြင်း** | ၅-၁၀-၂၀၁၅ | | |
| ၅။ | PAT အစည်းအဝေးဆုံးဖြတ်ချက် ကုမ္ပဏီသို့ ပြန်ကြားသည့် ရက်စွဲ | ၁၁-၁၁-၂၀၁၅ | | |
| ၆။ | **မြေအသုံးပြုခွင့် တင်ပြခြင်း** | | | |
| | - ကော်မရှင်အစည်းအဝေး (၂၁/၂၀၁၅) ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခြင်း | ၂၇-၁၁-၂၀၁၅ | | |
| | - နိုင်ငံတော်သမ္မတရုံးမှ လုပ်ထုံးလုပ်နည်းနှင့် အညီ ဆက်လက်ဆောင်ရွက်ရန် အကြောင်း ကြားခြင်း | ၁၆-၁၂-၂၀၁၅ | | |
| ၇။ | **အဆိုပြုချက်ပြန်လည်ပေးပို့ခြင်း** | ၂၉-၁-၂၀၁၆ | | |
| ၈။ | ကုမ္ပဏီမှအဆိုပြုလွှာ(၈)စုံ ပြန်လည်ပေးပို့ခြင်း | | ၁၀-၂-၂၀၁၆ | |
| ၉။ | ကော်မရှင်အစည်းအဝေးသို့ တင်ပြမည့် အကြိမ်/နေ့ရက် | | ၅/၂၀၁၆ | |
| ၁၀။ | **စုစုပေါင်းကြာမြင့်ရက်** | ၁၂၈ ရက် | | |

ကော်မရှင်မှ အဆိုပြုချက်အား ကွင်းဆင်းစစ်ဆေးကာ အစီရင်ခံစာရရှိပြီးမှ လက်ခံဆောင်ရွက်ခဲ့ခြင်းနှင့် ရထားပို့ဆောင်ရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား စောင့်ဆိုင်းနေသည့်အတွက် ၁၂၈ ရက် ကြာမြင့်နေခြင်း ဖြစ်ပါသည်။

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | Hotel Yamaman Co., Ltd. |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း |
| တည်နေရာ | - | ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကင်းမြို့နယ်၊ ၁၃ ရပ်ကွက်၊ သစ္စာလမ်း၊ ကံဘဲ့၊ အမှတ် ၁၆ (ခ-၁၊ခ-၂) ရှိ မြေ (၀.၂၇၆) ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | အမေရိကန်ဒေါ်လာ ၁၁.၆၆၅ သန်း |
| လုပ်ငန်းသက်တမ်း | - | (၃၀) နှစ် |
| အရင်းကြေကာလ | - | ၉ နှစ် ၁၁ လ |
| IRR | - | ၈.၄၆ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၃.၀၀ သန်း . (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၁၇ သန်း |
| ၃ | ကုန်သွယ်လုပ်ငန်းခွန် | | ကျပ် ၁၃၈၈.၄၀ သန်း |
| ၄ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | - | |
| ၅ | ဝင်ငွေခွန် | ကျပ် ၉၂၄.၉၀ သန်း | ကျပ် ၁၃၁၁.၆၀ သန်း |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ကျပ် ၃၄၃.၃၇ သန်း |
| ၇ | CSR (၁ %) | | ကျပ် ၇၄.၄၀ သန်း |
| ၈ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၃၄ ဦး<br>ပြည်ပ ၃ ဦး<br>ပြည်တွင်းလုပ်သား ( ၃၇) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူ ပြုစေပါသည်။ |
| | **စုစုပေါင်း** | ကျပ် ၉၂၇.၉၀ သန်း | ကျပ် ၃၁၁၈.၉၄ သန်း |
| | | ၁ : ၃ | |

အကြောင်းအရာ။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Hotel Yamaman Company Limited မှ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ခြင်းနှင့်စပ်လျဉ်းသည့် အဓိက အချက်များ

| | | |
|---|---|---|
| ၁ | ကုမ္ပဏီအမည်/ကမကထပြုသူ | - Hotel Yamaman Co., Ltd.<br>Mr. Tetsuya Kurokawa (Japan) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Yamaman Co., Ltd. ( Japan ) ၄၀ %<br>YM Total Service Co., Ltd. (Japan) ၃၆ %<br>Nishiki Estate Inc (Japan) ၁၄ %<br>Hokke Club Co., Ltd. (Japan) ၁၀ % |
| | လုပ်ငန်းအမျိုးအစား | - Hotel Services |
| ၂ | တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကင်း မြို့နယ်၊ ၁၃ ရပ်ကွက်၊ သစ္စာလမ်း ကံဘဲ့၊ အမှတ် ၁၆/ ခ-၁၊ ၁၆/ခ-၂ ရှိ မြေ (၀.၂၇၆) ဧက |
| | မြေပိုင်ရှင် | - ဒေါ်မူမူနိုင် |
| | မြေအကျယ်အဝန်း | - ၀.၂၇၆ ဧက (၁၁၁၇ စတုရန်းမီတာ) |
| ၃ | နှစ်စဉ်မြေငှားရမ်းခ | - US$ ၁၁၀,၀၀၀.၄၀(တစ်နှစ်တစ်စတုရန်းမီတာလျှင် US$ ၉၈.၄၇) |
| ၄ | လုပ်ငန်းသက်တမ်း | - ၃၀ နှစ် |
| | တည်ဆောက်ရေးကာလ | - ၂၄ လ |
| ၅ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | (US$) သန်း |
| | ငွေသား | - ၄.၆၆၇ |
| | Loan | - ၆.၉၉၈ |
| | စုစုပေါင်း | - ၁၁.၆၆၅ |
| ၆ | ထည့်ဝင်သည့်အမျိုးအစား | |

| | ငွေသား (US$ သန်း) | ချေးငွေ (US$ သန်း) | စုစုပေါင်း (US$ သန်း) |
|---|---|---|---|
| ငွေသား | ၀.၁၅၇ | ၀.၂၃၆ | ၀.၃၉၃ |
| Land Lease | ၁.၃၄၇ | ၂.၀၁၉ | ၃.၃၆၆ |
| Building (Construction Cost) | ၁.၈၀၀ | ၂.၇၀၀ | ၄.၅၀၀ |
| Machinery & Equipment | ၁.၁၉၇ | ၁.၇၉၄ | ၂.၉၉၁ |
| Furniture | ၀.၁၆၆ | ၀.၂၄၉ | ၀.၄၁၅ |
| စုစုပေါင်း | ၄.၆၆၇ | ၆.၉၉၈ | ၁၁.၆၆၅ |

၇ ဝန်ဆောင်မှု(၆)နှစ် မြောက် ဟိုတယ်လုပ်ငန်း

| စဥ် | အမျိုးအစား | ဝန်ဆောင်မှု ပေးမည့် အခန်း | ဝန်ဆောင်ခ နှုန်း (US$) |
|---|---|---|---|
| (က) | Suite Room | ၂၈ | ၁၂၀ |
| (ခ) | Superior Room | ၆၃ | ၈၀ |
| | စုစုပေါင်း | ၉၁ | |

Occupancy rate 80 %

| | | |
|---|---|---|
| ၈ | ဝန်ထမ်းအင်အား | - ၃၇ ဦး |
| | ပြည်ပ | ၃ ဦး (အနိမ့်ဆုံး ဝန်ထမ်း ၁ ဦး၏ လစာမှာ US$ ၃၅၀၀ ဖြစ်ပြီး အမြင့်ဆုံး ဝန်ထမ်း ၁ ဦး၏ လစာမှ US$ ၇၀၀၀ ဖြစ်ပါသည်။) |
| | ပြည်တွင်း | ၃၄ ဦး (အနိမ့်ဆုံး ဝန်ထမ်း ၁ ဦး၏ လစာမှာ US$ ၁၂၅ ဖြစ်ပြီး အမြင့်ဆုံး ဝန်ထမ်း ၁ ဦး၏ လစာမှ US$ ၆၇၀ ဖြစ်ပါသည်။) |
| ၉ | ကုမ္ပဏီ၏ ဝင်ငွေ | - US$ ၂.၃၄၄ သန်း |
| | ကုမ္ပဏီ၏အသုံးစရိတ် | - US$ ၁.၇၄၇ သန်း |
| | ကုမ္ပဏီ၏အသားတင်အမြတ် | - US$ ၀.၅၉၇ သန်း |
| ၁၀ | နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ် (ဆဌမနှစ်) | |
| | ဝင်ငွေခွန် | - US$ ၀.၂၀၁ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - US$ ၀.၁၂၃ သန်း |
| ၁၁ | အရင်းကြေကာလ | - ၉ နှစ် ၁၁ လ |
| | အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၈.၄၆ % |
| ၁၂ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - 300,000 KWh |
| ၁၃ | အခြားတင်ပြချက်များ | - Hotel Yamaman Co., Ltd. သည် ကုမ္ပဏီဌာနခွဲတွင် နာမည်စိစစ်ပြီးကြောင်း အထောက်အထား နှင့်တကွ AOA နှင့် MOA တင်ပြထားပါသည်။ Hotel Yamaman CO., Ltd. မှ ဒါရိုက်တာအဖွဲ့ဝင်များ၏ Passport မိတ္တူကို တင်ပြ ထားပါ သည်။ |
| | | - Yamaman Co., Ltd. ၏ (၃၁-၁၂-၂၀၁၃) ခုနှစ် အထိ စာရင်းစစ်အစီရင်ခံစာ တင်ပြထားပါသည်။ ငွေကြေးအထောက်အထားအဖြစ် Yamanan Co., Ltd. အမည်ဖြင့် ဂျပန်နိုင်ငံ၊ MIZUHO BANK Ltd တွင် (၃၁-၇-၂၀၁၅)ရက်နေ့တွင် JYP ၁,၅၆၇,၉၃၄,၁၇၅ (US$ ၁၂၆၄၂၅၉၁.၃၁) ရှိကြောင်း တင်ပြထားပါသည်။ |
| | | - Hotel Yamaman Co., Ltd. မှ တည်ဆောက်မည့် အဆောက်အဦ ဒီဇိုင်း နှင့် တည်နေရာပြမြေပုံတို့အား တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၄ | ကော်မရှင်ရုံးအဖွဲ့မှ စိစစ်တင်ပြချက် | - ကုမ္ပဏီမှ CSR (Corporate Social Responsibility) အတွက် နှစ်စဉ် အသားတင် အမြတ်၏ ၁ % ကို သုံးစွဲရန် လျာထားပြီး ဖြစ်ကြောင်း တင်ပြ ထားပါသည်။<br>(က) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ဆောက်လုပ်မည့် အဆောက်အဦ အတွက် တည်ဆောက်ရေး လုပ်ငန်းသုံး ပစ္စည်းများကို ပြည်ပမှတင်သွင်းခြင်း မရှိကြောင်း တွေ့ရှိရပါသည်။<br>(ခ) ကားပါကင်ထားရှိမှုအဖြစ် ကားအစီးရေ ၃၀ ရပ်နားနိုင်မည့် နေရာစီစဉ်ထားရှိကြောင်း တင်ပြထားသည်ကို တွေ့ရှိရပါသည်။<br>(ဂ) ချေးငွေအနေဖြင့် ရင်းနှီးမြှုပ်နှံမှု၏ ၆၀% ဖြစ်သည့် US$ ၆.၉၉၈ သန်း ပါဝင်ပြီး ဂျပန်နိုင်ငံYamaman Co., Ltd. မှ အတိုးနှုန်း ၃ % ဖြင့် ချေးယူမည် ဖြစ်ကြောင်းနှင့် ပြန်လည်ပေးဆပ်မည့်အစီအစဉ်တို့အား ပူးတွဲတင်ပြထားပါသည်။<br>(ဃ) ဟိုတယ်အဆောက်အဦ ဆောက်လုပ်ခြင်းနှင့် စပ်လျဉ်း၍ ဘေးပတ်ဝန်းကျင် ၁၀ အိမ်မှ သဘောတူ လက်မှတ်ရေးထိုးထားခြင်းများ တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ရက- ၄/န-၀၃၈/၂၀၁၆( ၂၀၇ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၁၁ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**
**တင်ပြမည့် အမှာစာ**

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Hotel Yamaman Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကင်းမြို့နယ်တွင် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက်တင်ပြခြင်းကိစ္စ**

၁။ ဂျပန်နိုင်ငံ Yamaman Co., Ltd. မှ ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Hotel Yamaman Co., Ltd. တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကင်းမြို့နယ်၊ ၁၃ ရပ်ကွက်၊ သစ္စာလမ်း၊ ကံဘဲ့၊ အမှတ် ၁၆/ ခ-၁၊ ၁၆/ခ-၂ ရှိ မြေ (၀.၂၇၆) ဧက ၌ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ Mr. Tetsuya Kurokawa မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းကို ၂၀၁၅ ခုနှစ် စက်တင်ဘာလ ၂၉ ရက်နေ့တွင် ကျင်းပပြုလုပ်သော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၃၅/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ လုပ်ငန်း စီမံကိန်းကာလမှာ ၃၀ နှစ် ဆောင်ရွက်မည် ဖြစ်ပါသည်။ တည်ဆောက်မှုကာလမှာ ၂၄ လ ဖြစ်ပြီး ကော်မရှင် ခွင့်ပြုမိန့် ရရှိပြီးပါက လုပ်ငန်းများ စတင်ဆောင်ရွက်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၃။ အဆိုပြုချက်နှင့်အတူ ဒေါ်မူမူနိုင်နှင့် Hotel Yamaman Co., Ltd. တို့ ချုပ်ဆိုမည့် မြေငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း) ၊ ဂျပန်နိုင်ငံ Yamaman Co., Ltd. တို့ ချုပ်ဆိုမည့် ချေးငွေစာချုပ် (မူကြမ်း)တို့အား ပူးတွဲ တင်ပြထားပါသည်။

၄။ အဆိုပြုလုပ်ငန်းအား ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကင်းမြို့နယ်၊ ၁၃ ရပ်ကွက်၊ သစ္စာလမ်း၊ ကံဘဲ့၊ အမှတ် ၁၆/ ခ-၁၊ ၁၆/ခ-၂ ရှိ မြေ (၀.၂၇၆) ဧက (၁၁၁၇ စတုရန်းမီတာ) တွင် ဆောင်ရွက်မည်ဖြစ်ပါသည်။ မြေငှားရမ်းခမှာ တစ်နှစ် ၁ စတုရန်းမီတာလျှင် US$ ၉၈.၄၇ နှုန်းဖြင့် စုစုပေါင်း US$ ၁၁၀,၀၀၀.၄၀ ဖြစ်ပါသည်။

၅။ လုပ်ငန်း၏စုစုပေါင်းရင်းနှီးမြှုပ်နှံမှုမှာ US$ ၁၁.၆၆၅ သန်းဖြစ်ပြီး ၎င်းတွင် မတည်ငွေရင်း US$ ၄.၆၆၇ သန်း နှင့် ချေးငွေ US$ ၆.၉၉၈သန်း ပါဝင်ပါသည်။ Hotel Yamaman Co., Ltd. သည် ဂျပန်နိုင်ငံ Yamaman Co., Ltd.ထံ မှ US$ ၆.၉၉၈ သန်းကို အတိုးနှုန်း ၃ % ဖြင့် ချေးယူမည်ဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမှု ထည့်ဝင်မှုအမျိုးအစားမှာတစ်ဖက်ပါအတိုင်းဖြစ်ပါသည်-

| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | နိုင်ငံသား (US$) သန်း | ချေးငွေ (US$ သန်း) | စုစုပေါင်း (US$ သန်း) |
|---|---|---|---|
| ငွေသား | ၀.၁၅၇ | ၀.၂၃၆ | ၀.၃၉၃ |
| Land Lease | ၁.၃၄၇ | ၂.၀၁၉ | ၃.၃၆၆ |
| Building (construction Cost) | ၁.၈၀၀ | ၂.၇၀၀ | ၄.၅၀၀ |
| Machinery & Equipment | ၁.၁၉၇ | ၁.၇၉၄ | ၂.၉၉၁ |
| Furniture | ၀.၁၆၆ | ၀.၂၄၉ | ၀.၄၁၅ |
| စုစုပေါင်း | ၄.၆၆၇ | ၆.၉၉၈ | ၁၁.၆၆၅ |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၃၇) ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းမှ အနိမ့်ဆုံးဝန်ထမ်းတစ်ဦး၏ လစာမှာအမေရိကန်ဒေါ်လာ ၁၂၅ ဖြစ်ပြီး၊ အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ အမေရိကန် ဒေါ်လာ ၆၇၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း (၃)ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်ပမှ အနိမ့်ဆုံးဝန်ထမ်းတစ်ဦး၏ လစာမှာအမေရိကန်ဒေါ်လာ ၃၅၀၀ ဖြစ်ပြီး၊ အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ အမေရိကန် ဒေါ်လာ ၇၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ်(၆)နှစ်မြောက်တွင် Occupancy rate မှာ ၈၀ % ရှိပြီး ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နိုင်မှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဥ် | အမျိုးအစား | ဝန်ဆောင်မှုပေးမည့် အခန်း | ဝန်ဆောင်ခနှုန်း (US$) |
|---|---|---|---|
| (က) | Suite Room | ၂၈ | ၁၂၀ |
| (ခ) | Superior Room | ၆၃ | ၈၀ |
| | စုစုပေါင်း | ၉၁ | |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆)နှစ်မြောက်တွင် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

US $ (သန်း)

| | | |
|---|---|---|
| (က) | ဝင်ငွေ | ၂.၃၄၄ |
| (ခ) | အသုံးစရိတ် | ၁.၇၄၇ |
| (ဂ) | အသားတင်အမြတ် | ၀.၅၉၇ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်(ဆဋ္ဌမနှစ်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၀.၂၀၁ သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန် အမေရိကန်ဒေါ်လာ ၀.၁၂၃ သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၉ နှစ်

၁၁ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း IRR မှာ ၈.၄၆% ဖြစ်ပါသည်။ အမေရိကန် ဒေါ်လာ တစ်ဒေါ်လာ လျှင် ၁၃၀၀ ကျပ် နှုန်းဖြင့် တွက်ချက်တင်ပြထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာဌာနများမှ တစ်ဖက်ပါအတိုင်း သဘောထား မှတ်ချက် ပြန်ကြားထားပါသည် -

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

(၁) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည်နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိ မြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိကြောင်း။

(၂) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား ၃၄ ဦး အလုပ် အကိုင် ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်း နှင့် ဒေသစီးပွား ရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေပါ ကြောင်း။

(၃) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကင်းမြို့နယ်၊ (၁၃) ရပ်ကွက်၊ ရွှေသစ္စာလမ်းနှင့် ရထားလမ်းကြား၊ သစ္စာလမ်းထောင့် အမှတ် ၁၆ (ခ-၁၊ ခ-၂)ရှိ မြေ(၀.၂၇၆)ဧကအား တစ်နှစ် တစ်စတုရန်းမီတာ US$ ၉၈.၄၈ နှုန်းဖြင့် (နှစ် ၃၀ အတွက် US$ ၃,၃၀၀,၀၀၀)ဖြင့် နှစ် ၃၀ ငှားရမ်းဆောင် ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာ၀ပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါကြောင်း။

(၄) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာ တွင် သဘာ၀ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါကြောင်း။

(၅) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၁၇-၁၂-၂၀၁၅ ရက်နေ့တွင် ကျင်းပ သော အစည်းအဝေးအမှတ်စဉ် ၅၈/၂၀၁၅ (၁၇-၁၂-၂၀၁၅) ကြိမ်မြောက် အစည်းအဝေးဆုံးဖြတ်ချက် အပိုဒ် (၂၀)အရ Hotel Yamaman Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း။

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ခ)**

(၁) အဆိုပြုလုပ်ငန်းဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ် များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု(Corporate Social Responsibility- CSR) အတွက်

အသားတင်အမြတ်ငွေ၏ (၁%)အားအသုံးပြုခြင်းတို့အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၂) အဆိုပြုလုပ်ငန်းဆောင်ရွက်မှုကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) အနည်းဆုံး ဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင်ဆန်းစစ်ခြင်း(Initial Environmental Examination-IEE)ကို ဆောင်ရွက်ပြီး IEE အစီရင်ခံစာ ရေးဆွဲပြုစု တင်ပြရန်။

(၃) အထက်ပါ လေ့လာဆန်းစစ်မှုရလာဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုများ မဖြစ်ပေါ်စေရေး သို့မဟုတ် ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်များ၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက်သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan- EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ၊ ဟိုတယ်နှင့် ခရီးသွားလာရေးဥပဒေ၊ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီလိုက်နာဆောင်ရွက်ရန်။

**(Hotel Yamaman Co., Ltd. မှ အဆိုပြုလုပ်ငန်းအတွက် အထက်ပါသဘောထား မှတ်ချက်နှင့်အညီ ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination - IEE)နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု စီမံချက် (Environmental Management Plan-EMP) ကို ဆောင်ရွက်မည်ဖြစ်ကြောင်း (၁၅-၁၂-၂၀၁၅)ရက်စွဲဖြင့်တင်ပြထားပါသည်။)**

(ဂ) ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန (နောက်ဆက်တွဲ-ဂ)

(၁) ကားပါကင်ထားရှိမှုအခြေအနေနှင့် ကားအစီးရေမည်မျှ ရပ်နားနိုင်မည့်အခြေအနေ များကိုတင်ပြထားရန် လိုအပ်ပြီး ၅-၁၀-၂၀၁၅ ရက်နေ့မြေပြင်ကွင်းဆင်း စစ်ဆေး ရေးအဖွဲ့မှ ကွင်းဆင်းမှုအရ ပုံမှန်ယာဉ်ကြော ပိတ်ဆို့မှုရှိသောနေရာ ဖြစ်သည့် အတွက် ဟိုတယ်သို့ဝင်ထွက် သွားလာသောကားများယာဉ်အန္တရာယ် ကင်းရှင်းစေရေး၊ ယာဉ်ကြောပိတ်ဆို့မှုမဖြစ်စေရေးနှင့်လူနေပတ်ဝန်းကျင်အား ထိခိုက်မှုမရှိအောင် စီမံချက်ရေးဆွဲပြီး ရေရှည် ဆောင်ရွက်

သွားရမည်ဖြစ်ကြောင်း တင်ပြထားသဖြင့် ယဥ်ဝင်/ ထွက်ရာတွင် လွယ်ကူရေး၊ လုံခြုံစိတ်ချမှုရှိစေရေးအတွက် စဥ်းစားဆောင်ရွက်သွားရန် လိုအပ်ကြောင်း။

(၂) မြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့၏ တင်ပြချက်အရ စီမံကိန်း ဆောင်ရွက်မည့် မြေနေရာသည် မီးရထားလမ်းမှ ပေ ၅၀ ခန့်သာ ကွာဝေးပါသဖြင့် ဟိုတယ်တွင် တည်းခို နိုင်မည့် ဧည့်သည်များအတွက် တိတ်ဆိတ် ငြိမ်သက်မှုနှင့် ပတ်သက်၍ အနှောက်အယှက်ဖြစ်နိုင်သည်ကို ထည့်သွင်းစဥ်းစားသင့်ပါကြောင်း။

(၃) ဟိုတယ်နှင့်တည်းခိုရိပ်သာ လုပ်ငန်းလိုင်စင်ဆိုင်ရာ အမိန့်တွင်ပါရှိသည့် ဟိုတယ် လုပ်ငန်းအတွက် အနည်းဆုံးလိုအပ်သည့် အခြေခံအချက်များတွင် ပါဝင်သော ဟိုတယ်တည်နေရာနှင့် အဆောက်အအုံ၊ သတ်မှတ်ချက်များဖြစ်သော ဘာသာရေး အဆောက်အအုံ၊ ဈေး၊ကျောင်း စသည်တို့နှင့် လွတ်ကင်းပြီး ဟိုတယ်လုပ်ငန်း ဆောင်ရွက်ရန်သင့်လျော်သောနေရာတွင် ရှိရမည်ဖြစ်သည့်အပြင် မြေပြင်ကွင်းဆင်း စစ်ဆေးရေးအဖွဲ့မှ တင်ပြခဲ့သည့် ဟိုတယ်တည်ဆောက်ခွင့်နှင့် ပတ်သက်၍ တင်ပြလျှောက်ထားရာ၌ လိုအပ်သည့် စီမံကိန်းတည်နေရာ၏ ဘေးပတ်ဝန်းကျင်ရှိလူနေအိမ်များ၏ ကန့်ကွက်ရန်မရှိကြောင်း သဘောထားရရှိနိုင်ရေး ကြိုတင်ဆောင်ရွက် ထားသင့်ကြောင်း။

(၄) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုများသည် ကြယ်သုံးပွင့်အဆင့်သာရှိသည့် အလတ်စား ဟိုတယ်လုပ်ငန်းများတွင် တဖြည်းဖြည်းဝင်ရောက်လျက်ရှိရာ နောင်တွင်ပြည်တွင်း လုပ်ငန်းရှင်များ လုပ်ကိုင်နိုင်မည့်အခွင့်အလမ်းများ လျော့နည်းလာမည့် အခြေအနေ ရှိသည့်အပြင် ပြည်တွင်းတိုင်းရင်းသား လုပ်ငန်းရှင်များပင် ယင်းထက်မက လုပ်ကိုင်နိုင်သော အခြေအနေတွင် ယခုတင်ပြလာသည့် Hotel Yamaman Co., Ltd. အား ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်ခွင့်ပြုရန် သင့်-မသင့် စဥ်းစားရန် လိုအပ်ပါကြောင်း။

(ဂ) **ရထားပို့ဆောင်ရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ဃ)**

(၁) ရထားပို့ဆောင်ရေးဝန်ကြီးဌာနအနေဖြင့် မြေပိုင်ရှင်ဖြစ်သူ ဒေါ်မူမူနိုင်၊ မှတ်ပုံတင်အမှတ်၊ ၉/မရမ(နိုင်) ၀၇၉၅၀၅ က မြန်မာ့မီးရထားပိုင် မြေဧရိယာ(၀.၀၁၉)ဧကပါဝင်လျက် ကာရံထားရှိသောအုတ်တံတိုင်းအား(၂၃-၁-၂၀၁၅) ရက်နေ့တွင် အပြီးအပိုင်ဖျက်သိမ်းပြီးဖြစ်ကြောင်း တင်ပြလာပြီးဖြစ်သဖြင့် ၎င်းဟိုတယ်အဆိုပြုချက်သည် မြန်မာ့မီးရထားပိုင်မြေအတွင်း အကျုံးဝင်မှုမရှိတော့ပါကြောင်းနှင့် သီးခြားသဘောထားမှတ်ချက်ပေးရန် မရှိပါကြောင်း။

(ဃ) မြန်မာနိုင်ငံတော်ဗဟိုဘဏ် (နောက်ဆက်တွဲ-င)

(၁) Hotel Yamaman Co., Ltd. အနေဖြင့် ချေးငွေအား ၂၀၁၅ ခုနှစ်မှစ၍ ၄ နှစ်ခွဲ၍ ရယူရမည်ဖြစ်ပြီး ၂၀၁၈ ခုနှစ်မှ စတင်၍ အရင်းနှင့် အတိုးအား ပြန်လည်ပေးဆပ်မည်ဖြစ်ရာ Equity ၏ အနည်းဆုံး ၈၀ % အထိ ယူဆောင်လာပြီးမှသာ အဆိုပြုထားသည့် ပြည်ပချေးငွေအား ချေးယူခွင့်ပြုသင့်ပါကြောင်း။

**(Hotel Yamaman Co., Ltd.မှ မြန်မာနိုင်ငံတော်ဗဟိုဘဏ်၏ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း (၁၅-၁၂-၂၀၁၅) ရက်စွဲဖြင့် တင်ပြထားပါသည်။)**

(င) ရန်ကုန်မြို့တော်စည်ပင်သာယာရေးကောမတီ (နောက်ဆက်တွဲ-စ)

(၁) အဆိုပြုတင်ပြလာသည့် မြေနေရာအား မြေပြင်ကွင်းဆင်းစစ်ဆေးရာ မြေကွက်လပ်ဖြစ်၍ မြေကွက်ပတ်လည်အား အုတ်ခြံစည်းရိုးကာရံထားပြီး မြေကွက်အတိုင်းအတာမှာ D/map ပါအတိုင်းအတာထက် ပိုမိုနေကြောင်း၊ မီးရထားသံလမ်းနှင့် ၄၁'/၅၀' ကွာဝေးကြောင်း၊ အဆိုပြုမြေကွက်မှ ပေ ၁၂၀ ခန့်အကွာတွင် မူလတန်းကျောင်းရှိကြောင်း၊ ရှေးဟောင်းလက်ရာဝင်အဆောက်အဦဖြစ်သည့် မိုးကောင်းစေတီတော်ကြီးနှင့် ပေ ၁၂၅၀ ခန့်ကွာဝေးကြောင်းနှင့် အဆောက်အဦ ဆောက်လုပ်ခွင့်လျှောက်ထားလာခြင်း မရှိသေးပါကြောင်း။

(၂) ရန်ကင်းမြို့နယ်၊ (၁၃)ရပ်ကွက်၊ ရွှေသစ္စာလမ်းနှင့် ရထားလမ်းအကြား၊ သစ္စာလမ်းထောင့်၊ အမှတ်-၁၆(ခ-၁၊ ခ-၂)တွင် အထပ် ၈ ထပ်ခွဲ၊ အခန်း(၉၁)ခန်းပါ ဟိုတယ်ဆောက်လုပ်၍ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနတို့၏ ထောက်ခံချက်များဖြင့် ဆောက်လုပ်ခွင့် လျှောက်ထားလာပါက လုပ်ထုံးလုပ်နည်းနှင့်အညီ ခွင့်ပြုပေးသွားမည် ဖြစ်ပါကြောင်းနှင့် ကန့်ကွက်ရန်မရှိပါကြောင်း။

၁၀။ Hotel Yamaman Co., Ltd. သည် ကုမ္ပဏီဌာနခွဲတွင်နာမည်စိစစ်ပြီးကြောင်း အထောက်အထား နှင့်တကွ AOA နှင့် MOAတင်ပြထားပါသည်။Hotel Yamaman Co., Ltd. မှ ဒါရိုက်တာအဖွဲ့ဝင်များ၏ Passport မိတ္တူကို တင်ပြ ထားပါသည်။

၁၁။ ငွေကြေးအထောက်အထားအဖြစ် Yamanan Co., Ltd. အမည်ဖြင့်ဂျပန်နိုင်ငံ၊MIZUHO BANK Ltd တွင် (၃၁-၇-၂၀၁၅)ရက်နေ့တွင် JYP ၁,၅၆၇,၉၃၄,၁၇၅ (US$ ၁၂၆၄၂၅၉၁.၃၁) ရှိကြောင်း တင်ပြထားပါသည်။

၁၂။ ကုမ္ပဏီမှ CSR (Corporate Social Responsibility) အတွက် နှစ်စဉ်အသားတင် အမြတ်၏ ၁ % ကို သုံးစွဲရန် လျာထားပြီး ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၃။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၄။ **စိစစ်တင်ပြချက်**

(က) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ဆောက်လုပ်မည့် အဆောက်အဦ အတွက် တည်ဆောက်ရေး လုပ်ငန်းသုံး ပစ္စည်းများကို ပြည်ပမှတင်သွင်းခြင်း မရှိကြောင်း တွေ့ရှိရပါသည်။

(ခ) ကားပါကင်ထားရှိမှုအဖြစ် ကားအစီးရေ ၃၀ ရပ်နားနိုင်မည့် နေရာစီစဉ် ထားရှိကြောင်း တင်ပြထားသည်ကို တွေ့ရှိရပါသည်။

(ဂ) ချေးငွေအနေဖြင့် ရင်းနှီးမြှုပ်နှံမှု၏ ၆၀% ဖြစ်သည့် US$ ၆.၉၉၈ သန်း ပါဝင်ပြီး ဂျပန်နိုင်ငံYamaman Co., Ltd. မှ အတိုးနှုန်း ၃ % ဖြင့် ချေးယူမည် ဖြစ်ကြောင်း နှင့် ပြန်လည်ပေးဆပ်မည့်အစီအစဉ်တို့အား ပူးတွဲတင်ပြထားပါသည်။

(ဃ) ဟိုတယ်အဆောက်အဦ ဆောက်လုပ်ခြင်းနှင့် စပ်လျဉ်း၍ ဘေးပတ်ဝန်းကျင် ၁၀ အိမ်မှ သဘောတူ လက်မှတ်ရေးထိုးထားခြင်းများ တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၅။ Hotel Yamaman Co., Ltd. သည် ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်း ဒေသကြီး၊ ရန်ကင်းမြို့နယ်၊ ၁၃ ရပ်ကွက်၊ သစ္စာလမ်း၊ ကံဘဲ့၊ အမှတ် ၁၆/ခ-၁၊ ၁၆/ခ-၂ ရှိ မြေ (၀.၂၇၆)ဧက တွင် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန်တင်ပြခြင်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့် ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ

# ကုမ္ပဏီဒါရိုက်တာနှင့်အစုရှင်များ၏နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Hotel Yamaman Co., Ltd. | (1) Mr. Tetsuo Shimada<br>Japanese, PP No. TR 0948621<br>(Represented by)<br>Yamaman Co., Ltd.(Japan) | 1-2-8 Kamisoshigaya, Setagaya-ku, Tokyo, Japan |
| | | (2) Mr. Hiromi Oki<br>Japanese, PP No. TK 8813510<br>(Represented by)<br>YM Total Service Co., Ltd. (Japan) | 3-20-8 Yukarigaoka, Sakura-shi, Chiba, Japan |
| | | (3) Mr. Yuji Sasahara<br>Japanese, PP No. TH6204720<br>(Represented by)<br>Nishiki Estate Inc. (Japan) | 4-1143-43 Mutsukawa, Minami-ku, Yokohama, Kanagawa, Japan |
| | | (4) Mr. Tatsuji Noguchi<br>Japanese, PP No. 7395257<br>(Represented by)<br>Hokke Club Co., Ltd. | G-1003 Park City Shinkawasaki, Ogura, Saiwai-ku, Kawasaki-shi, Kanagawa, Japan |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ် - ၀၉၂၆၃၄၂၅၄၆၅,
Tokyo Consulting Firm Co., Ltd.
၀၉၅၁၉၃၇၀၈, ၀၁-၅၅၉၃၇၇ (Ext; ၆၄၀၄)

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - No. 38, 3/F(301), Moe Kaung Road, Yankin T/S, Yangon, Myanmar.

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - Mr. Tetsuya Kurokawa, Promoter

၄။ ကုမ္ပဏီအနေဖြင့် ဆောင်ရွက်သည့်လုပ်ငန်းများ - ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ -

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ -

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် -

နောက်ဆက်တွဲ-က



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာ လ ၂၂ ရက်

သို့

√မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

M3-12-77
22/12

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၉. ၁၁. ၂၀၁၅)ရက်စွဲပါစာအမှတ်၊ ရက - ၄/ န-၀၃၈/၂၀၁၅ (၈၈၁)

၁။ ဂျပန်နိုင်ငံ Yamaman Co., Ltd. မှ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Hotel Yamaman Co., Ltd. တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကင်းမြို့နယ်၊ (၁၃)ရပ်ကွက်၊ ရွှေသစ္စာလမ်းနှင့် ရထားလမ်းအကြား၊ သစ္စာလမ်းထောင့်၊ အမှတ်-၁၆(ခ-၁၊ ခ-၂)ရှိ မြေ(၀. ၂၇၆)ကေ၌ အထပ် (၈)ထပ်ခွဲ၊ အခန်း(၉၁)ခန်းပါ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ Mr. Tetsuya Kurokawa မှ လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံ လာခြင်းနှင့်စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား(၃၄)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူ ဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကင်းမြို့နယ်၊ (၁၃)ရပ်ကွက်၊ ရွှေသစ္စာလမ်းနှင့် ရထားလမ်းအကြား၊ သစ္စာလမ်းထောင့်၊ အမှတ်-၁၆(ခ-၁၊ ခ-၂)ရှိ မြေ(၀. ၂၇၆)ကေအား 98.48 US $/ $m^2$/year နှုန်းဖြင့် [နှစ်(၃၀)အတွက် US $ 3,300,000]ဖြင့် နှစ်(၃၀) ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့်(၁၇. ၁၂. ၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၅၈/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၂၀)အရ Hotel Yamaman Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးစိုက်ပျိုးရေးနှင့်မွေးမြူရေးဝန်ကြီး
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ရန်ကင်းမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Hotel Yamaman Co., Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

D/2015/Cabinet/58.,(2)

နောက်ဆက်တွဲ-ခ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

NPT-5880
30.11.15

စာအမှတ် ၃(၂)/၁၆(ဃ)(၁)/( ၃၃၂၃ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊ နိုဝင်ဘာလ ၂၇ ရက်

M3-1171
2/12

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉-၁၁-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၄ / န - ၀၃၈ / ၂၀၁၅ (၈၈၂)

၁။ ဂျပန်နိုင်ငံ Yamaman Co., Ltd. မှ ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Hotel Yamaman Co., Ltd. တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကင်းမြို့နယ်၊ (၁၃) ရပ်ကွက်၊ ရွှေသစ္စာလမ်း နှင့် ရထားလမ်းအကြား၊ သစ္စာလမ်းထောင့်၊ အမှတ် ၁၆ (ခ-၁၊ ခ-၂) ရှိ မြေ (၀.၂၇၆) ဧကပေါ်၌ အထပ် (၈) ထပ်ခွဲ၊ အခန်း (၉၁) ခန်းပါ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့် အညီ ဆောင်ရွက်ခွင့်ပြုရန် ကိစ္စ နှင့် ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများ၊ စွန့်ပစ်အရည်များကြောင့် ရေထုညစ်ညမ်းမှု၊ မြေထုညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ခြင်း နှင့် အဆိုပါစွန့်ပစ်အရည်များ၊ စွန့်ပစ်ပစ္စည်းများအား စနစ်တကျစွန့်ပစ်မှုမရှိပါက ပတ်ဝန်းကျင်ရှိ ပြည်သူလူထု၏ ကျန်းမာရေးထိခိုက်မှုများ ဖြစ်ပေါ်စေနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ Hotel Yamaman Co., Ltd. မှ အထပ် (၈) ထပ်ခွဲ အခန်း (၉၁) ခန်းပါ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း နှင့် ပတ်သက်၍ အောက်ဖော်ပြပါအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြု လုပ်ငန်းဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် အသားတင် အမြတ်ငွေ၏ (၁ %) အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များအား လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြု လုပ်ငန်းဆောင်ရွက်မှုကြောင့် ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်မှုမရှိစေရေး ( သို့မဟုတ် ) အနည်းဆုံး ဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination - IEE) ကို ဆောင်ရွက်ပြီး IEE အစီရင်ခံစာ ရေးဆွဲပြုစုတင်ပြရန်၊

(ဂ) အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်မှုများ မဖြစ်ပေါ်စေရေး သို့မဟုတ် ထိခိုက်မှု အနည်းဆုံး ဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း / စွန့်ပစ်အရည်စီမံခန့်ခွဲမှု အစီအစဉ်များ ၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ် ၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP) ရေးဆွဲတင်ပြရန် နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ ၊ နည်းဥပဒေများ ၊ လုပ်ထုံးလုပ်နည်းများ ၊ ညွှန်ကြားချက်များ ၊ ဟိုတယ် နှင့် ခရီးသွားလာရေးဥပဒေ၊ နည်းဥပဒေများ ၊ ညွှန်ကြားချက်များ ၊ လုပ်ထုံးလုပ်နည်းများ နှင့် အညီ လိုက်နာဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီး အစိုးရအဖွဲ့ နှင့် ဒေသခံပြည်သူများ၏ ဆန္ဒ နှင့် သဘောထား ရယူဆောင်ရွက်ရန်။

၂၄/၁၁

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုးညွန့် ၊ ဒုတိယအမြဲတမ်းအတွင်းဝန် )

၂၄/၁၁.

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

နောက်ဆက်တွဲ-ဂ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၁၈-ဂ (အုပ်ချုပ်မှု) /နပတ/ ၃၅၁၀
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ နိုဝင်ဘာ လ ၂ ရက်။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၆-၁၀-၂၀၁၅) ရက်စွဲပါ စာအမှတ်၊ ရက-၄/န-၀၃၈/၂၀၁၅(၈၀၇)

၁။ ဂျပန်နိုင်ငံ Yamaman Co.,Ltd မှ ရာနှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Hotel Yamaman Co.,Ltd တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကင်းမြို့နယ်၊ (၁၃) ရပ်ကွက်၊သစ္စာလမ်း ၊အမှတ်၁၆(ခ-၁၊ခ-၂)ရှိ မြေ(၀.၂၇၆)ဧကတွင် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် Mr.Tetsuya Kurokawa မှအဆိုပြုလွှာတင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ လက်ရှိအခြေအနေတွင် ကမ္ဘာလှည့်ခရီးသည်များအပါအဝင် နိုင်ငံခြားခရီးသည်များ၏ လေကြောင်း၊ ရေကြောင်းဖြင့် အဓိကဝင်ထွက်ရာဒေသဖြစ်ခြင်းကြောင့် Hotel Yamaman Co.,Ltd မှအခန်း(၉၁)ခန်းပါနိုင်ငံတကာအဆင့်မီဟိုတယ်လုပ်ငန်းတည်ဆောက်အကောင်အထည်ဖော်ဆောင်ရွက်မည့်လုပ်ငန်းစီမံကိန်းသည်ခရီးသွားလုပ်ငန်းကို အထောက်အကူပြုသည့် စီမံကိန်းတစ်ရပ်ဖြစ်သော်လည်း ပြည်ပခရီးသည်ရောက်ရှိမှု၊ ပြည်တွင်းခရီးသည်တည်းခိုမှုနှင့် ဟိုတယ်နှင့်တည်းခိုရိပ်သာဖွံ့ဖြိုးမှုတို့သည် အချိုးညီရန်လိုအပ်ပါသည်။

၃။ သို့ပါ၍ဝန်ကြီးဌာနအနေနှင့် ဟိုတယ်လုပ်ငန်းဆိုင်ရာများနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ခရီးသွားဧည့်သည်များ လာရောက်တည်းခိုရာတွင် ယာဉ်များရပ်နားရန်အတွက် ကားပါကင်ထားရှိမှု အခြေအနေနှင့်ကားအစီးရေမည်မျှရပ်နားနိုင်မည့် အခြေအနေများကို

C-2 -3 Remark -LH

တင်ပြထားရှိရန်လိုအပ်ပါသည်။ ထို့အပြင်(၅-၁၀-၂၀၁၅)ရက်နေ့တွင် မြေပြင်စစ်ဆေးရေးအဖွဲ့မှ ကွင်းဆင်းစစ်ဆေးခဲ့ရာ ပုံမှန်ယာဉ်ကြောပိတ်ဆို့မှုရှိသော နေရာဖြစ်သည့်အတွက် ဟိုတယ်သို့ဝင်ထွက်သွားလာသောကားများယာဉ်များ အန္တရာယ်ကင်းရှင်းစေရေး၊ ယာဉ်ကြောပိတ်ဆို့မှုမဖြစ်စေရေးနှင့် လူနေပတ်ဝန်းကျင်အား ထိခိုက်မှုမရှိအောင် စီမံချက်ရေးဆွဲပြီး ရေရှည်ဆောင်ရွက်သွားရန်ဖြစ်ကြောင်း တင်ပြထားသဖြင့်ယာဉ်ဝင်/ထွက်ရာတွင် လွယ်ကူရေး၊ စိတ်ချလုံခြုံမှုရှိစေရေးအတွက် စဉ်းစားဆောင်ရွက်သွားရန်လိုအပ်ပါသည်။

(ခ) အဆိုပါ မြေပြင်စစ်ဆေးရေးအဖွဲ့၏ တင်ပြချက်အရ စီမံကိန်းဆောင်ရွက်မည့်မြေနေရာသည် မီးရထားလမ်းမှ ပေ (၅၀)ခန့်သာကွာဝေးပါသဖြင့်ဟိုတယ်တွင် တည်းခိုနေထိုင်မည့် ဧည့်သည်များအတွက် တိတ်ဆိတ်ငြိမ်သက်မှုနှင့်ပတ်သတ်၍ အနှောင့်အယှက်ဖြစ်နိုင်သည်ကို ထည့်သွင်းစဉ်းစားသင့်ပါသည်။

(ဂ) ကုမ္ပဏီမှ အဆိုပါနေရာတွင် ဟိုတယ်တည်ဆောက်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်နှင့် စပ်လျဉ်း၍ ရထားပို့ဆောင်ရေးဝန်ကြီးဌာနနှင့် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီတို့ထံမှမြေနေရာသတ်မှတ်ခြင်းကိုရှင်းလင်းစွာဆောင်ရွက်သွားရန်လိုအပ်ကြောင်းသိရှိခဲ့ရသည့်အပြင်၊ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့်ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၏သဘောထားမှတ်ချက်များတင်ပြရန်လိုအပ်ပါသည်။

(ဃ) ဟိုတယ်နှင့်တည်းခိုရိပ်သာ လုပ်ငန်းလိုင်စင်ဆိုင်ရာ အမိန့်တွင်ပါရှိသည့် ဟိုတယ်လုပ်ငန်းအတွက်အနည်းဆုံးလိုအပ်သည့်အခြေခံအချက်များတွင်ပါဝင်သောဟိုတယ်တည်နေရာနှင့်အဆောက်အအုံ၊သတ်မှတ်ချက်များဖြစ်သော ဘာသာရေးအဆောက်အအုံ၊ ဈေး၊ ကျောင်းစသည်တို့နှင့် လွတ်ကင်းပြီး ဟိုတယ်လုပ်ငန်းဆောင်ရွက်ရန်သင့်လျော်သောနေရာတွင်ရှိရမည်ဖြစ်သည့်အပြင် မြေပြင်စစ်ဆေးရေးအဖွဲ့မှတင်ပြခဲ့သည့် ဟိုတယ်တည်ဆောက်ခွင့်နှင့်ပတ်သက်၍ တင်ပြလျှောက်ထားရာ၌ လိုအပ်သည့်စီမံကိန်းတည်နေရာ၏ ဘေးပတ်ဝန်းကျင်ရှိ လူနေအိမ်များ၏ ကန့်ကွက်ရန်မရှိကြောင်းသဘောထားရရှိနိုင်ရေး ကြိုတင်ဆောင်ရွက်ထားသင့်ပါသည်။

(င) နိုင်ငံခြားလုပ်ငန်းရှင်များကို အလတ်တန်းစားဟိုတယ်များတွင်ရင်းနှီးလုပ်ကိုင်ခွင့်မပြုရန် စီးပွားရေးဖိုရမ်များ၌ ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းရှင်များ၏ ဆွေးနွေးတင်ပြမှု

လည်းရှိပါသည်။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုများသည် ကြယ်သုံးပွင့်အဆင့်သာရှိသည် အလတ်စားဟိုတယ်လုပ်ငန်းများတွင် တဖြည်းဖြည်းဝင်ရောက်လျက်ရှိရာ နောင်တွင် ပြည်တွင်းလုပ်ငန်းရှင်များ လုပ်ကိုင်နိုင်သည့်အခွင့်အလမ်းများ လျော့နည်းလာမည့် အခြေအနေရှိသည့်အပြင်ပြည်တွင်းတိုင်းရင်းသားလုပ်ငန်းရှင်များပင်ယှဉ်ထက်မက လုပ်ကိုင်နိုင်သောအခြေအနေတွင်ယခုတင်ပြလာသည့် Hotel Yamaman Co.,Ltd အားရာနှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့်ဆောင်ရွက်ခွင့်ပြုရန် သင့်/မသင့် စဉ်းစား ရန်လိုအပ်ပါကြောင်း တင်ပြအပ်ပါသည်။

၃.၁၁.၂၀၁၇.

( ဦးဌေးအောင် )

ပြည်ထောင်စုဝန်ကြီး

မိတ္တူကို

ရုံးလက်ခံ

မျှော

C-2 -5 Remark -LH

နောက်ဆက်တွဲ-ဃ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## ရထားပို့ဆောင်ရေးဝန်ကြီးဌာန
## ဝန်ကြီးရုံး

ဝန်ကြီးရုံး

MPT-405
5.2.2016

M3-256
8/2

စာအမှတ် ၂/ ၆၁(MIC)/၂၀၁၆ ( ၂၄၃ )

ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ(၂၉)ရက်စွဲပါ စာအမှတ်၊ ရက-၄/န-၀၃၈/၂၀၁၆(၀၃၆)

၁။ ဂျပန်နိုင်ငံ Yamaman Co., Ltd. မှ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Hotel Yamaman Co., Ltd. တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကင်းမြို့နယ်၊ ၁၃ ရပ်ကွက်၊ သစ္စာလမ်း၊ ကံဘဲ့၊ အမှတ် ၁၆ (ခ-၁၊ခ-၂)ရှိ မြေ(၀.၂၇၆)ဧက၌ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ Mr. Tetsuya Kurokawa က အဆိုပြုတင်ပြခြင်းနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ မြေပိုင်ရှင်ဖြစ်သူ ဒေါ်မူမူနိုင်၊ မှတ်ပုံတင်အမှတ်၊ ၉/မရမ(နိုင်) ၀၇၉၅၀၅ က ပူးတွဲပါစာဖြင့် မြန်မာ့မီးရထားပိုင် မြေဧရိယာ(၀.၀၁၉)ဧကပါဝင်လျက် ကာရံထားရှိသော အုတ်တံတိုင်းအား (၂၃-၁-၂၀၁၅)ရက်နေ့တွင် အပြီးအပိုင်ဖျက်သိမ်းပြီးဖြစ်ကြောင်း တင်ပြလာပြီးဖြစ်သဖြင့် ၎င်းဟိုတယ်အဆိုပြုချက်သည် မြန်မာ့မီးရထားပိုင်မြေအတွင်း အကျုံးဝင်မှုမရှိတော့ပါကြောင်း၊ သို့ပါ၍ သီးခြားသဘောထားမှတ်ချက်ပြုရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပူးတွဲ - (၂)ရွက်

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ဇော်မင်းဦး - အမြဲတမ်းအတွင်းဝန်)

မိတ္တူ။

- မြန်မာ့မီးရထား

ရထားပို့ဆောင်ရေးဝန်ကြီးဌာန
စာအမှတ် ၉၃၄
နေ့စွဲ ၂၅.၁.၂၀၁၆
ဝန်ကြီးရုံး

သို့

ဦးဆောင်ညွှန်ကြားရေးမှူး

မြန်မာ့မီးရထား

နေပြည်တော် ။

နေ့စွဲ ၊ ၂၅ . ၁ . ၂၀၁၆

အကြောင်းအရာ ။ ။ မြန်မာ့မီးရထားမြေထဲသို့ (၀.၀၁၉) ဧက ၊ ကာရံထားရှိသော အုတ်တံတိုင်းအား ဖျက်သိမ်းပြီးပါကြောင်း တင်ပြ အစီရင်ခံခြင်း ။

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ (၉.၁၁.၂၀၁၅)ရက်စွဲပါစာအမှတ်၊ ရက - ၄ / န- ၀၃၈ / ၂၀၁၆ (၈၈၃)

(၂) ဝန်ကြီးရုံး ၊ ရထားပို့ဆောင်ရေးဝန်ကြီးဌာန၏ (၁၆.၁၁.၂၀၁၅) ရက်စွဲပါစာအမှတ် ၊ ၂/၆၁ (MIC) / ၂၀၁၅ (၄၆၈၈)

(၃) တိုင်းတာဝန်ခံ ၊ တိုင်း(၇)ရုံး၏ (၁၈.၁၁.၂၀၁၅) ရက်စွဲပါစာအမှတ် ၊ ၁၃၃၁ / တ၀၁ / ၂၀၁၅ / မြေနေရာ

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့် ပါတ်သက်၍ ရန်ကင်းမြို့နယ် ၊ ရွှေသစ္စာလမ်းနှင့် ရထားလမ်းကြား ၊ သစ္စာလမ်းထောင့် ၊ အမှတ် (၁၆/ခ၂+ခ၂)ရှိ မြေဧရိယာ (၀.၂၇၆) ဧက၌ ၊ ဧထပ်ခွဲ အခန်း(၉၁)ခန်းပါ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် ၊ ရင်းနှီးမြှုပ်နှံသူ Hotel Yarmaman Co., Ltd မှ တင်ပြလာခြင်းနှင့် ပါတ်သက်၍ (၅.၁၀.၂၀၁၅)ရက်နေ့တွင် MIC မှ ဖွဲ့စည်းပေးထားသော အဖွဲ့ဖြင့် ကွင်းဆင်းတိုင်းတာခဲ့ရာ ၊ ကျွန်မတို့ ကုမ္ပဏီပိုင်မြေအပြင် (၀.၀၁၉) ဧကအားနစ်ရှည်ငှားရမ်းခြင်း (သို့မဟုတ်) နှစ်အလိုက်ငှားရမ်းခြင်း စသည်ဖြင့် မြန်မာ့မီးရထားမှ ငှားရမ်းခွင့်ပြုပါရန် တင်ပြ လျှောက်ထားခဲ့ပါသည်။

၂။ ယခုအခါ မိမိဆန္ဒအလျောက် ငှားရမ်းခြင်းကို မပြုလုပ်လိုတော့ဘဲ တိုင်းတာဝန်ခံ (တိုင်း၇) ရုံးအဖွဲ့၏ သတ်မှတ်ငုတ်တိုင်အားကာရံပြီး ကျူးနေသည့်အုတ်တံတိုင်း(၀.၀၁၉)ဧကကိုဖျက်သိမ်းမည် ဖြစ်ကြောင်း လျှောက်ထားခဲ့ပါသည်။ ပူးတွဲ (က)

၃။ အထက်ပါလျှောက်ထားချက်နှင့်အညီ ကျူးနေသည့် အုတ်တံတိုင်းအား (၂၃.၁.၂၀၁၆) နေ့တွင် အပြီးအပိုင် ဖျက်သိမ်း၍ သတ်မှတ်ထားသော ငုတ်တိုင်အတွင်း ယာယီခြံစည်းရိုးတစ်ခုကို ကာရံထားရှိပြီးဖြစ်ပါကြောင်း လေးစားစွာ တင်ပြအပ်ပါသည်။ ပူးတွဲ (ခ) ဓါတ်ပုံ အထောက်အထားများပါ ပေးပို့ပါသည်။

စာ-၂ သို့

၄။ သို့ဖြစ်ပါ၍ ကျွန်မပိုင်မြေပေါ်တွင် Hotel Yarmaman Co.,Ltd မှ (၉၁)ခန်းပါ ဟော်တယ် ဝန်ဆောင်မှုလုပ်ငန်း လုပ်ကိုင်ရန်အတွက် မြန်မာရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ခွင့်ပြုမိန့်ရရန်အလို့ငှာ မြန်မာ့မီးရထားမှ သဘောထားမှတ်ချက်ကို ဆောလျှင်စွာ ပေးပို့ပေးနိုင်ပါရန် လေးစားစွာ တင်ပြအပ်ပါသည်။

ဒေါ်မူမူနိုင်

၉/မရမ(နိုင်) ၀၇၉၅၀၅

အမှတ်(၂၅/A)၊ ရှင်စောပုလမ်း

စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့။

မိတ္တူကို -

(၁) ဥက္ကဌ၊ မြန်မာ့ရင်းနှီးမြှုပ်နှံမှု့ကော်မရှင်ရုံး

(၂) ဒုတိယဝန်ကြီး ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ နေပြည်တော်။

(၃) တိုင်းတာဝန်ခံ (တိုင်း - ၇)၊ မြန်မာ့မီးရထား၊ ရန်ကုန်မြို့။

နောက်ဆက်တွဲ-င

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံတော်ဗဟိုဘဏ်

စာအမှတ်၊ အက်ဖ်အီး - ၃၉ / ၃၁
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၁၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Hotel Yamaman Co., Ltd ၏ ပြည်ပချေးငွေရယူမည့်အပေါ် သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၉.၁၁.၂၀၁၅) ရက်စွဲပါ စာအမှတ်၊ ရက - ၄ / န -၀၃၈/ ၂၀၁၅ (၈၈၄)

ဂျပန်နိုင်ငံ Yamaman Co., Ltd ၏ ရာနှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Hotel Yamaman Co., Ltd တည်ထောင်ကာ ရန်ကုန်မြို့၊ ရန်ကင်းမြို့နယ်တွင် အထပ်(၈) ထပ်ခွဲ၊ အခန်း(၉၁)ခန်းပါ ဟိုတယ်တည်ဆောက်၍ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြရာတွင် ချေးငွေ အမေရိကန်ဒေါ်လာ၆,၉၉၈,၀၀၀ ရယူရန် အဆိုပြုထား၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က မြန်မာနိုင်ငံတော်ဗဟိုဘဏ်၏ သဘောထားမှတ်ချက် တောင်းခံလာခြင်းအား အောက်ပါအတိုင်း မှတ်ချက်ပြုပြန်ကြားအပ်ပါသည် -

- Hotel Yamaman Co., Ltd အနေဖြင့် ချေးငွေအား ၂၀၁၅ ခုနှစ်မှစ၍ (၄) နှစ်ခွဲ၍ ရယူမည်ဖြစ်ပြီး ၂၀၁၈ ခုနှစ်မှ စတင်၍ အရင်းနှင့်အတိုးအား ပြန်လည်ပေးဆပ်မည်ဖြစ်ရာ Equity ၏ အနည်းဆုံး ၈၀% အထိ ယူဆောင် လာပြီးမှသာ အဆိုပြုထားသည့် ပြည်ပချေးငွေအား ချေးယူခွင့်ပြုသင့်ပါသည်။

( ဆက်အောင် )
ဒုတိယဥက္ကဋ္ဌ

မိတ္တူကို

ဥက္ကဋ္ဌရုံး၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်

ဒုတိယဥက္ကဋ္ဌ(၂)၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်

ညွှန်ကြားရေးမှူးချုပ်၊ ငွေရေးကြေးရေးကြပ်မတ်ကွပ်ကဲမှုဌာန

ဒုတိယညွှန်ကြားရေးမှူးချုပ်
ငွေရေးကြေးရေးအဖွဲ့အစည်းများကြပ်မတ်ကွပ်ကဲရေးနှင့်
ငွေကြေးခဝါချမှု တိုက်ဖျက်ရေးဌာန

ရုံးလက်ခံ

မျှောစာတွဲ

နောက်ဆက်တွဲ-၈

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်တိုင်းဒေသကြီးအစိုးရ
ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ
မြို့တော်ခန်းမ၊ရန်ကုန်မြို့

စာအမှတ်၊ ၁၀၉/၀၁ (၄၇၇၀)/စသက
ရက်စွဲ ၊ ၂၀၁၅ခုနှစ် နိုဝင်ဘာလ ၂၄ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉-၁၁-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၄/န-၀၃၈/၂၀၁၅ (၈၈၅)

၁။ ရန်ကင်းမြို့နယ်၊ (၁၃)ရပ်ကွက်၊ ရွှေသစ္စာလမ်းနှင့်ရထားလမ်းအကြား၊ သစ္စာလမ်းထောင့်၊ အမှတ်-၁၆(ခ-၁၊ ခ-၂)ရှိ မြေ(၀.၂၇၆)ဧကတွင် အထပ် ၈ထပ်ခွဲ၊ အခန်း(၉၁)ခန်းပါ ဟိုတယ်ဆောက်လုပ်၍ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ Mr.Tetsuya Kurokawa မှ တင်ပြလာခြင်းအပေါ် ရည်ညွှန်းပါစာဖြင့် သဘောထားမှတ်ချက် တောင်းခံလာပါသည်။

၂။ အဆိုပြု တင်ပြလာသည့် မြေနေရာအား မြေပြင်စစ်ဆေးရာ မြေကွက်လပ်ဖြစ်၍ မြေကွက်ပတ်လည်အား အုတ်ခြံစည်းရိုးကာရံထားပြီး မြေကွက်အတိုင်းအတာမှာ D/ map ပါအတိုင်းအတာထက် ပိုမိုနေကြောင်း၊ မီးရထားသံလမ်းနှင့် ၄၁'/၅၀' ကွာဝေးကြောင်း၊ အဆိုပြုမြေကွက်မှ ပေ ၁၂၀ ခန့်အကွာတွင် မူလတန်းကျောင်းရှိကြောင်း၊ ရေးဟောင်းလက်ရာဝင်အဆောက်အဦဖြစ်သည့် မိုးကောင်းစေတီတော်ကြီးနှင့် ပေ ၁၂၅၀ ခန့်ကွာဝေးကြောင်းနှင့် အဆောက်အဦ ဆောက်လုပ်ခွင့်လျှောက်ထားလာခြင်း မရှိသေးကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ ရန်ကင်းမြို့နယ်၊ (၁၃)ရပ်ကွက်၊ ရွှေသစ္စာလမ်းနှင့်ရထားလမ်းအကြား၊ သစ္စာလမ်းထောင့်၊ အမှတ်-၁၆(ခ-၁၊ ခ-၂)တွင် အထပ် ၈ထပ်ခွဲ၊ အခန်း(၉၁)ခန်းပါ ဟိုတယ်ဆောက်လုပ်၍ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနတို့၏ ထောက်ခံချက်များဖြင့် ဆောက်လုပ်ခွင့် လျှောက်ထားလာပါက လုပ်ထုံးလုပ်နည်းနှင့်အညီ ခွင့်ပြုပေးသွားမည်ဖြစ်ပါကြောင်းနှင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(ဉာဏ်လင်းစိုး၊ ရုံးအဖွဲ့မှူး)

မိတ္တူကို
မျှောစာတွဲ
ရုံးလက်ခံ

ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ
စာအမှတ် ........
ရက်စွဲ ........
ကော်မတီရုံး

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်တိုင်းဒေသကြီးအစိုးရ
ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ
မြို့တော်ခန်းမ၊ရန်ကုန်မြို့

စာအမှတ်၊ ၁၀၉/၀၁ (၄၇၉၂)/စသက
ရက်စွဲ ၊ ၂၀၁၅ခုနှစ် နိုဝင်ဘာလ ၂၀ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉-၁၁-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၄/န-၀၃၈/၂၀၁၅ (၈၈၅)

P-1270
20.11.15

၁။ ရန်ကင်းမြို့နယ်၊ (၁၃)ရပ်ကွက်၊ ရွှေသစ္စာလမ်းနှင့်ရထားလမ်းအကြား၊ သစ္စာလမ်းထောင့်၊ အမှတ်-၁၆(ခ-၁၊ ခ-၂)ရှိ မြေ(၀.၂၇၆)ဧကတွင် အထပ် ၈ထပ်ခွဲ၊ အခန်း(၉၁)ခန်းပါ ဟိုတယ်ဆောက်လုပ်၍ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ Mr.Tetsuya Kurokawa မှ တင်ပြလာခြင်း အပေါ် ရည်ညွှန်းပါစာဖြင့် သဘောထားမှတ်ချက် တောင်းခံလာပါသည်။

၂။ အဆိုပြု တင်ပြလာသည့် မြေနေရာအား မြေပြင်စစ်ဆေးရာ မြေကွက်လပ်ဖြစ်၍ မြေကွက်ပတ်လည်အား အုတ်ခြံစည်းရိုးကာရံထားပြီး မြေကွက်အတိုင်းအတာမှာ D/ map ပါအတိုင်းအတာထက် ပိုမိုနေကြောင်း၊ မီးရထား သံလမ်းနှင့် ၄၁'/၅၀' ကွာဝေးကြောင်း၊ အဆိုပြုမြေကွက်မှ ပေ ၁၂၀ ခန့်အကွာတွင် မူလတန်းကျောင်းရှိကြောင်း၊ ရှေးဟောင်းလက်ရာဝင်အဆောက်အဦဖြစ်သည့် မိုးကောင်းစေတီတော်ကြီးနှင့် ပေ ၁၂၅၀ ခန့်ကွာဝေးကြောင်းနှင့် အဆောက်အဦ ဆောက်လုပ်ခွင့်လျှောက်ထားလာခြင်း မရှိသေးကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ ရန်ကင်းမြို့နယ်၊ (၁၃)ရပ်ကွက်၊ ရွှေသစ္စာလမ်းနှင့်ရထားလမ်းအကြား၊ သစ္စာလမ်းထောင့်၊ အမှတ်-၁၆(ခ-၁၊ ခ-၂)တွင် အထပ် ၈ထပ်ခွဲ၊ အခန်း(၉၁)ခန်းပါ ဟိုတယ်ဆောက်လုပ်၍ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနတို့၏ ထောက်ခံချက်များဖြင့် ဆောက်လုပ်ခွင့် လျှောက်ထားလာပါက လုပ်ထုံးလုပ်နည်းနှင့်အညီ ခွင့်ပြုပေးသွားမည်ဖြစ်ပါကြောင်းနှင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

20-11-2015

ဥ က္က ဋ္ဌ (ကိုယ်စား)
(ဉာဏ်လင်းစိုး၊ ရုံးအဖွဲ့မှူး)

မိတ္တူကို
တွဲဖက်အတွင်းရေးမှူး၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ
ဌာနမှူး၊ အင်ဂျင်နီယာဌာန(အဆောက်အအုံ)၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ
မျှောစာတွဲ
ရုံးလက်ခံ

DDG 95
17/12/15

M3-7235
15/12

YAMAMAN Co., Ltd.
6-1, Nihombashi-Koamicho, Chuo-ku, Tokyo, 103-0016, JAPAN
Tel: (03) 3668-5111 Fax: (03) 3669-8951

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ် (၁) သစ္စာလမ်း၊ ရန်ကင်းမြို့နယ်
ရန်ကုန်မြို့

ရက်စွဲ၊ 15 December 2015

အကြောင်းအရာ။ ။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြခြင်း။

ရည်ညွှန်းချက်။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၇ ရက်စွဲပါ စာအမှတ်၊ ရက-၄ / န-၀၃၈ / ၂၀၁၅ (၉၅၄)။

ဂျပန်နိုင်ငံ Yamaman Co., Ltd. မှ ရာနှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Hotel Yamaman Co., Ltd. တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကင်းမြို့နယ်၊ ၁၃ ရပ်ကွက်၊ သစ္စာလမ်းကံဘဲ့၊ အမှတ် ၁၆ (ခ-၁၊ ခ-၂)၊ ရှိ မြေ (၀.၂၇၆) ဧက၌ အထပ် ၈ ထပ်ခွဲ၊ အခန်း (၉၁) ခန်းပါ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်မည့်ကိစ္စနှင့်ပတ်သက်၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ Hotel Yamaman Co.,Ltd. မှပြင်ဆင်လိုက်နာဆောင်ရွက်မည် ဖြစ်ပါသည်။

(က) လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility – CSR) နှင့်ပတ်သက်၍ ဝန်ခံကတိပြုစာအား ပူးတွဲတင်ပြအပ်ပါသည်။

(ခ) Initial Environmental Examination – IEE နှင့် Environmental Management Plan – EMP အစီရင်ခံစာများနှင့် ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် မှ Permit ရရှိသည့်နေ့မှ (၃) လအတွင်း ရေးဆွဲတင်ပြမည်ဖြစ်ပါသည်။

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ၊ ဟိုတယ်နှင့် ခရီးသွားလာရေးဥပဒေ၊ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

黒川 哲也
Tetsuya Kurokawa
TR3889687
Promoter

YAMAMAN Co., Ltd.
6-1, Nihombashi-Koamicho, Chuo-ku, Tokyo, 103-0016, JAPAN
Tel (03) 3668-5111 Fax (03) 3669-8951

To
Chairman
Myanmar Investment Commission,
Ministry of National Planning and Economic Development
Building No.32, Nay Pyi Taw.

Date: 15 December 2015

Subject : **Undertaking letter for Corporate Social Responsibility (CSR)**

We, Hotel Yamaman Co., Ltd. will start hotel business located at Block No.34, Settlement No. Kan Be, Lot No. 16/Kha-1, 16/Kha-2, Thit Sar Road, 13th Ward, Yankin Township, Yangon. And we undertake to contribute 1% of net profit after tax to the Corporate Social Responsibility (i.e. cleaning around the hotel area, planting etc.).

Yours Faithfully,

黒川 哲也

Tetsuya Kurokawa
Promoter

YAMAMAN Co., Ltd.
6-1, Nihombashi-Koamicho, Chuo-ku, Tokyo, 103-0016, JAPAN
Tel: (03) 3668-5111 Fax: (03) 3669-8951

MB-12324
15/12

DDG 95
17/12/15

DG 48
17/12/15

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ် (၁) သစ္စာလမ်း၊ ရန်ကင်းမြို့နယ်
ရန်ကုန်မြို့

ရက်စွဲ၊ 15 December 2015

အကြောင်းအရာ။ ။ **အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်နှင့် အညီ ပြင်ဆင်တင်ပြခြင်း။**

ရည်ညွှန်းချက်။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၂၀၁၅ ခုနှစ် နိုဝင်ဘာလ ၁၁ ရက်စွဲပါ စာအမှတ်၊ ရက-၄ / န-၀၃၈ / ၂၀၁၅ (၈၉၂)။

ဂျပန်နိုင်ငံ Yamaman Co.,Ltd. မှ ရာနှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Hotel Yamaman Co.,Ltd. တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကင်းမြို့နယ်၊ ၁၃ ရပ်ကွက်၊ သစ္စာလမ်း၊ အမှတ် ၁၆ (ခ-၁၊ ခ-၂)၊ ရှိ မြေ (၀.၂၇၆) ဧကပေါ်၌ အထပ် ၈ ထပ်ခွဲ၊ အခန်း (၉၁) ခန်းပါ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်မည့်ကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်နှင့် အညီ Hotel Yamaman Co., Ltd. မှပြင်ဆင်လိုက်နာဆောင်ရွက်မည်ဖြစ်ပါသည်။

အသေးစိတ်အချက်များအား ပူးတွဲပါ အထောက်အထားများဖြင့် တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

黒川 哲也

Tetsuya Kurokawa
TR3889687
Promotor

## Report of the Influence by the Train

While passing the train near the site, we carefully checked the noise or vibration at the site, but we did not get any obstacle from the train.
Because of the two reasons as follows;

1) There is a canal (1.5m wide, 2m depth) and the public road (6m wide) between the railway and the site, which is possible to absorb the vibration of train. (See to the photo)

2) There is the station (Canbeboota) 200m far from the site, therefore any train reduce the speed, and absorb the vibration or noise.
According the time table, the last train is 20:38.
This means that almost all hotel guests are not disturbed their sleeping by the train.








AS further means, we will arrange the following items not to disturb the Hotel guest from the noise or vibration by the train.

1 We provide the Aluminum door and window with soundproof type and made in Japan, which are consist of the high quality frame and thick glass.

2 We also provide the Curtain with soundproof type which shall be enough thickness and proper material quality.

3 Each guest room have the concrete balcony 1m wide, and the balcony stops the sound come from the lower part.

黒川 哲也

Tetsuya Kurokawa
Promotor
Hotel Yamaman Co., Ltd.

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်တိုင်းဒေသကြီးအစိုးရ
ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ
မြို့တော်ခန်းမ၊ရန်ကုန်မြို့

စာအမှတ်၊ ၁၀၉/၀၁ (၄၇၃၂)/စသက
ရက်စွဲ ၊ ၂၀၁၅ခုနှစ် နိုဝင်ဘာလ ၂၀ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉-၁၁-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၄/န-၀၃၈/၂၀၁၅ (၈၈၅)

၁။ ရန်ကင်းမြို့နယ်၊ (၁၃)ရပ်ကွက်၊ ရွှေသစ္စာလမ်းနှင့်ရထားလမ်းအကြား၊ သစ္စာလမ်းထောင့်၊ အမှတ်-၁၆(ခ-၁၊ ခ-၂)ရှိ မြေ(၀.၂၇၆)ဧကတွင် အထပ် ၈ထပ်ခွဲ၊ အခန်း(၉၁)ခန်းပါ ဟိုတယ်ဆောက်လုပ်၍ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ Mr.Tetsuya Kurokawa မှ တင်ပြလာခြင်းအပေါ် ရည်ညွှန်းပါစာဖြင့် သဘောထားမှတ်ချက် တောင်းခံလာပါသည်။

၂။ အဆိုပြု တင်ပြလာသည့် မြေနေရာအား မြေပြင်စစ်ဆေးရာ မြေကွက်လပ်ဖြစ်၍ မြေကွက်ပတ်လည်အား အုတ်ခြံစည်းရိုးကာရံထားပြီး မြေကွက်အတိုင်းအတာမှာ D/ map ပါအတိုင်းအတာထက် ပိုမိုနေကြောင်း၊ မီးရထားသံလမ်းနှင့် ၄၁'/၅၀' ကွာဝေးကြောင်း၊ အဆိုပြုမြေကွက်မှ ပေ ၁၂၀ ခန့်အကွာတွင် မူလတန်းကျောင်းရှိကြောင်း၊ ရှေးဟောင်းလက်ရာဝင်အဆောက်အဦဖြစ်သည့် မိုးကောင်းစေတီတော်ကြီးနှင့် ပေ ၁၂၅၀ ခန့်ကွာဝေးကြောင်းနှင့် အဆောက်အဦ ဆောက်လုပ်ခွင့်လျှောက်ထားလာခြင်း မရှိသေးကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ ရန်ကင်းမြို့နယ်၊ (၁၃)ရပ်ကွက်၊ ရွှေသစ္စာလမ်းနှင့်ရထားလမ်းအကြား၊ သစ္စာလမ်းထောင့်၊ အမှတ်-၁၆(ခ-၁၊ ခ-၂)တွင် အထပ် ၈ထပ်ခွဲ၊ အခန်း(၉၁)ခန်းပါ ဟိုတယ်ဆောက်လုပ်၍ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနတို့၏ ထောက်ခံချက်များဖြင့် ဆောက်လုပ်ခွင့် လျှောက်ထားလာပါက လုပ်ထုံးလုပ်နည်းနှင့်အညီ ခွင့်ပြုပေးသွားမည်ဖြစ်ပါကြောင်းနှင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

(လက်မှတ်)
၂၀-၁၁-၂၀၁၅
ဥ က္က ဋ္ဌ (ကိုယ်စား)
(ဉာဏ်လင်းစိုး၊ ရုံးအဖွဲ့မှူး)

မိတ္တူကို

တွဲဖက်အတွင်းရေးမှူး၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ
ဌာနမှူး၊ အင်ဂျင်နီယာဌာန(အဆောက်အအုံ)၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ
မျှောစာတွဲ
ရုံးလက်ခံ

သို့

ဌာနမှူး
အင်ဂျင်နီယာဌာန (အဆောက်အအုံ)
ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ

ရက်စွဲ၊ ၂၀၁  ခုနှစ် အောက်တိုဘာလ ( ၉ ) ရက်

အကြောင်းအရာ။ ဘေးကပ်လျက်မြေကွက်များမှ ကန့်ကွက်ရန်မရှိကြောင်း တင်ပြခြင်း။

အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ ရန်ကုန်တိုင်း၊ ----ရန်ကင်း----မြို့နယ်၊ ----၁၃----ရပ်ကွက်၊ ----[illegible]----လမ်း၊ အိမ်အမှတ် (၃၉၅)၊ မြေတိုင်းရပ်ကွက်အမှတ် ( ၃၄ )၊ မြေကွက်အမှတ် (၁၆/၁၁ + ၁၆/၁၂)၊ --[illegible]-- ပိုင်ဆိုင်သောမြေကွက်တွင် (၈½) ထပ်တိုက် အဆောက်အဦ ဆောက်လုပ်ရာတွင် အိမ်၏အမိုးစွန်းမှ (      )ပေ ချန်၍ ဆောက်လုပ်ခြင်းနှင့်ပတ်သက်၍ ဘေးကပ်လျက်အိမ်များမှ ကန့်ကွက်ရန်မရှိပါကြောင်း အောက်တွင် လက်မှတ်ရေးထိုးတင်ပြအပ်ပါသည်။

| ယာဘက်အခြမ်းကပ်လျက်ပိုင်ရှင် | ဝဲဘက်အခြမ်းကပ်လျက်ပိုင်ရှင် |
|---|---|
| လက်မှတ် - | လက်မှတ် - [signature] |
| အမည် - | အမည် - [illegible] |
| မှတ်ပုံတင် - | မှတ်ပုံတင် - [illegible] |
| နေရပ် - | နေရပ် - [illegible] ၁၃ ရပ်ကွက်၊ ရန်ကင်းမြို့နယ် [illegible] |
| မြေကွက် [illegible] | မြေကွက် - |

ရပ်ကွက်အုပ်ချုပ်ရေးမှူး၏ ထပ်ဆင့်ထောက်ခံချက်

အမှတ်(၁၃)ရပ်ကွက်အုပ်ချုပ်ရေးမှူးရုံး
ကအမှတ်
ရက်စွဲ 9.10.15
ရန်ကင်းမြို့နယ်

[signature]
ဦးမောင်မောင်[illegible]
ရပ်ကွက်အုပ်ချုပ်ရေးမှူး
အမှတ်(၁၃)ရပ်ကွက်၊ရန်ကင်းမြို့နယ်

